ကန့်သတ်

ကုမ္ပဏီအမည် - Crystal Diamond Livestock Co., Ltd.

လုပ်ငန်း: - မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၂၀-၁-၂၀၁၅ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က)စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှုအစီရင်ခံရေးဦးစီးဌာန | ၂၂-၁-၂၀၁၅ | ၂၇-၁-၂၀၁၅ | |
| | (ခ)ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၄-၁-၂၀၁၅ | ၁၀-၂-၂၀၁၅ | |
| | (ဂ)မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန | ၂၄-၁-၂၀၁၅ | ၆-၂-၂၀၁၅ | |
| | (ဃ)ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၂၆-၈-၂၀၁၄ | ၁၆-၂-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း | ၂၆-၁-၂၀၁၅<br>၄/၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၇-၁-၂၀၁၅ | | |
| ၈ | ကုမ္ပဏီ မှပြင်ဆင်ချက် | ၅-၃-၂၀၁၅ | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၄/၂၀၁၅)ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခြင်း | ၆-၃-၂၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၄၃ ရက် | | |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | **Crystal Diamond Livestock Co., Ltd.** |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ရာနိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်း |
| တည်နေရာ | - | ရန်ကုန်တိုင်းဒေသကြီး လှိုင်သာယာမြို့နယ်၊ ရွှေသံလွင် စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ် (၄၇/၄၈/၅၃) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | - ကျပ် ၂၇,၂၆၉ သန်း (အမေရိကန်ဒေါ်လာ ၉.၅၄၆သန်းအပါအဝင်) |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း: | - | ကနဦး ၅၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၈ နှစ် ၈ လ |
| IRR | - | ၁၉.၁၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၀.၀၀၄ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၂၇၉၄.၀၃ သန်း | ကျပ် ၁၂၆၂၇.၈၁ သန်း |
| ၅ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁၀၂၅.၇၅ သန်း |
| ၆ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ် ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက် ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၄) ဦး |
| ၇ | CSR (၂ %) | | ကျပ် ၁၆၆.၁၉ သန်း |
| ၈ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၀၀ ဦး<br>ပြည်ပ ၂ ဦး<br>ပြည်တွင်းလုပ်သား (၂၀၂) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၂၇၉၅.၅၈ သန်း | ကျပ် ၁၃၈၂၀.၉၁သန်း |
| | Cost & Benefit | ၁ : ၅ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Crystal Diamond Livestock Co., Ltd.မှမွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Crystal Diamond Livestock Co., Ltd.<br>- ဦးစဝ်ခွန်စံအောင် |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး လှိုင်သာယာမြို့နယ်၊ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ မြေကွက်အမှတ် (၄၇/၄၈/၅၃) |
| | မြေအကျယ်အဝန်း | - စုစုပေါင်း (၁၀.၇၅၇)ဧက |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၇,၂၆၉ သန်း (အမေရိကန်ဒေါ်လာ ၉.၅၄၆သန်း အပါအဝင်)<br>- -သန်းပေါင်း |
| | ထည့်ဝင်သည့်အမျိုးအစား | ကျပ်(သန်း) |
| | ငွေသား | ၃၀၀.၀၀ |
| | မြေ | ၅,၀၅၀.၀၀ |
| | အဆောက်အဦ | ၃,၃၀၂.၀၀ |
| | စက်ပစ္စည်းကိရိယာများ | ၅၈၈၂.၀၀ (အမေရိကန်ဒေါ်လာ၄.၅၇၅သန်း အပါအဝင်) |
| | ရုံးသုံးပစ္စည်း | ၄၂.၀၀ |
| | မော်တော်ယာဉ် | ၅၀၃.၀၀ (အမေရိကန်ဒေါ်လာ ၀.၂၂၅ သန်း အပါအဝင်) |
| | ကုန်ကြမ်း (ပြည်တွင်းဝယ်) | ၈၅၇၀.၀၀ (အမေရိကန်ဒေါ်လာ ၁.၁၂၆သန်း အပါအဝင်) |

| | | |
|---|---|---|
| | ထည့်ဝင်သည့်အမျိုးအစား | ကျပ်(သန်း) |
| | ကုန်ကြမ်း (ပြည်ပဝယ်) | ၃၆၂၀.၀၀ (အမေရိကန်ဒေါ်လာ ၃.၆၂၀ သန်း အပါအဝင်) |
| | စုစုပေါင်းထည့်ဝင် ရင်းနှီးငွေ | ၂၇,၂၆၉.၀၀ |
| ၆။ | ဝန်ထမ်းအင်အား | - ၂၀၂ဦး |
| | ပြည်တွင်း | - ၂၀၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၈၀,၀၀၀နှင့် အမြင့်ဆုံးလစာကျပ် ၁,၅၀၀,၀၀၀) |
| | ပြည်ပ | - ၂ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၅,၀၀၀ နှင့် အမြင့်ဆုံးလစာ US$ ၅,၀၀၀) |
| ၇။ | ရောင်းချမည့်စနစ် | - ၁၀၀ % ပြည်တွင်းရောင်း |
| ၈။ | ရောင်းချမည့်ပစ္စည်း (ပုံမှန်နှစ်) | |

| စဉ် | အမျိုးအမည် | အရေအတွက် (မက်ထရစ်တန်) | ရောင်းချမည့် ဈေးနှုန်း (ကျပ်-သန်း) |
|---|---|---|---|
| (၁) | Broiler Pre-Starter | ၁၂,၉၈၈ | ၉၁၀,၆၂၅ |
| (၂) | Broiler Starter | ၃၀,၃၀၁ | ၈၇၃,၇၇၉ |
| (၃) | Broiler Grower | ၄၇,၂၈၃ | ၈၁၅,၈၇၈ |
| (၄) | Broiler Breeder PS | ၇၉ | ၈၇၆,၄၁၁ |
| (၅) | Broiler Breeder Starter | ၁၄၅ | ၇၉၃,၅၀၇ |
| (၆) | Broiler Breeder PGrower | ၁,၉၁၄ | ၈၀၅,၃၅၀ |
| (၇) | Broiler Breeder Grower | ၅,၂၈၀ | ၇၈၁,၆၆၃ |
| (၈) | Male Broiler Breeder | ၇၉၂ | ၇၅၇,၉၇၇ |
| (၉) | Duck Pre-Starter | ၂၃၄ | ၇၅၇,၉၇၇ |
| (၁၀) | Duck Starter | ၃၁၂ | ၇၆၃,၂၄၀ |
| (၁၁) | Duck Grower | ၆၉၅ | ၇၃၄,၂၉၀ |
| (၁၂) | Poultry Starter | ၁၇၆ | ၈၅၅,၃၅၆ |
| (၁၃) | Poultry Grower | ၃၅၁ | ၆၇၉,၀၂၁ |
| (၁၄) | Poultry Layer | ၁,၇၄၁ | ၆၁၀,၅၉၂ |
| | စုစုပေါင်း | ၁၀၂,၂၉၁ | |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ပုံမှန်နှစ်) | - ကျပ် ၈၅,၇၁၂.၀၃ သန်း |

ကန့်သတ်



| | | |
|---|---|---|
| | ကုမ္ပဏီ၏ အသားတင်အမြတ် | - ကျပ် ၄,၉၉၅.၀၃ သန်း |
| | ကုမ္ပဏီ ၏ အသုံးစရိတ် | - ကျပ် ၈၀၇၁၇ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - ကျပ် ၁,၆၆၅.၀၁ သန်း |
| | အရင်းကြေကာလ | - ၈ နှစ် ၈လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် | - ၁၉.၁၂ % |
| | ပြန်ပေါ်နှုန်း (IRR) | |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - Kwh ၂.၂၄၅သန်း |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက - ၂/ မ- ၂၀၆ / ၂၀၁၅ ( ၁၅၇၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် မတ်လ ၄ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **Crystal Diamond Livestock Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဖြင့် မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြခြင်း ကိစ္စ**

၁။ Crystal Diamond Livestock Company Limited. သည်မြေကွက်အမှတ်-(၄၇/၄၈/၅၃)၊မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ ရွှေသံလွင်စက်မှုဇုန်၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေအကျယ်အဝန်း (၁၀.၇၅၇)ဧကတွင် မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးစဝ်ခွန်စံအောင် (အဘ-ဦးစောကြာခိုင်) မှ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၂ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်၂၇,၂၆၉သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ လုပ်ငန်းသုံးယာဉ်များ အမေရိကန်ဒေါ်လာ ၃.၆၂၀ သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ကျပ်(သန်း) | |
|---|---|---|---|
| (က) | ငွေသား | ၃၀၀.၀၀ | |
| (ခ) | မြေ | ၅,၀၅၀.၀၀ | |
| (ဂ) | အဆောက်အဦ | ၃,၃၀၂.၀၀ | |
| (ဃ) | စက်ပစ္စည်းကိရိယာများ | ၅၈၈၂.၀၀ | (အမေရိကန်ဒေါ်လာ၄.၅၇၅သန်း အပါအဝင်) |
| (င) | ရုံးသုံးပစ္စည်း | ၄၂.၀၀ | |
| (စ) | မော်တော်ယာဉ် | ၅၀၃.၀၀ | (အမေရိကန်ဒေါ်လာ ၀.၂၂၅ သန်း အပါအဝင်) |

| စဉ် | ထည့်ဝင်သည့် အမျိုးအစား | ကျပ်(သန်း) | |
|---|---|---|---|
| (ဆ) | ကုန်ကြမ်း (ပြည်တွင်းဝယ်) | ၈၅၇၀.၀၀ | (အမေရိကန်ဒေါ်လာ ၁.၁၂၆သန်း အပါအဝင်) |
| (ဇ) | ကုန်ကြမ်း (ပြည်ပဝယ်) | ၃၆၂၀.၀၀ | (အမေရိကန်ဒေါ်လာ ၃.၆၂၀ သန်း အပါအဝင်) |
| | **စုစုပေါင်းထည့်ဝင် ရင်းနှီးငွေ** | ၂၇,၂၆၉.၀၀ | |

၄။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၂၀၀) ဦးနှင့် ပြည်ပမှ ကျွမ်းကျင်ဝန်ထမ်းဦးရေ (၂) ဦး စုစုပေါင်း (၂၀၂) ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ ကျပ် ၉၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ကြောင်းနှင့် ပြည်ပဝန်ထမ်း တစ်ဦး၏လစာမှာအမေရိကန်ဒေါ်လာ ၃,၀၀၀ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ ထုတ်လုပ်မှုမှာ အောက်ပါ အတိုင်းဖြစ်ပါ သည်-

| စဉ် | **ပစ္စည်း အမျိုးအစား** | **အရေ အတွက် (မက်ထရစ်တန်)** | **ရောင်းဈေးနှုန်း (ကျပ်)** |
|---|---|---|---|
| ၁ | Broiler Pre-Starter | ၁၂,၉၈၈ | ၉၁၀,၆၂၅ |
| ၂ | Broiler Starter | ၃၀,၃၀၁ | ၈၇၃,၇၇၉ |
| ၃ | Broiler Grower | ၄၇,၂၈၃ | ၈၁၅,၈၇၈ |
| ၄ | Broiler Breeder PS | ၇၉ | ၈၇၆,၄၄၁ |
| ၅ | Broiler Breeder Starter | ၁၄၅ | ၇၉၃,၅၀၇ |
| ၆ | Broiler Breeder PGrower | ၁,၉၁၄ | ၈၀၅,၃၅၀ |
| ၇ | Broiler Breeder Grower | ၅,၂၈၀ | ၇၈၁,၆၆၃ |
| ၈ | Male Broiler Breeder | ၇၉၂ | ၇၅၇,၉၇၇ |
| ၉ | Duck Pre-Starter | ၂၃၄ | ၇၅၇,၉၇၇ |
| ၁၀ | Duck Starter | ၃၁၂ | ၇၆၃,၂၄၀ |
| ၁၁ | Duck Grower | ၆၉၅ | ၇၃၄,၂၉၀ |
| ၁၂ | Poultry Starter | ၁၇၆ | ၈၅၅,၃၅၆ |
| ၁၃ | Poultry Grower | ၃၅၁ | ၆၇၉,၀၂၁ |
| ၁၄ | Poultry Layer | ၁,၇၄၁ | ၆၁၀,၅၉၂ |

၆။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့်ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - ကျပ် ၈၅,၇၁၂.၀၃ သန်း

(ခ) အသုံး စရိတ် - ကျပ် ၈၀၇၁၇ သန်း

(ဂ) အသားတင်အမြတ် - ကျပ် ၄,၉၉၅.၀၃ သန်း

၇။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် အဖြစ် ဝင်ငွေခွန် (၂၅%) မှာ ကျပ် ၁၆၆၅.၀၁ သန်း ဖြစ်ပါသည်။

၈။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၈နှစ်နှင့်၈လ) ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၁၉.၁၂) ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ၊ အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသ စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါကြောင်း၊ ဖော်ပြပါ မြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါကြောင်းသဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ မွေးမြူရေး အစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်း လည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်းအဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာ အချက်အလက်များ ကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် အစီအစဉ်များရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝင်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း

(Environmental Impact Assessment-EIA) ဆောင်ရွက်ရန်၊ အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံချက် (Environmental Management Plan-EMP)ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာတွင်ပါရှိသည့်အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအတွက် အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များနှင့်အညီ GMP Standards(Good Manufacturing Practices) စနစ်ဖြင့် တည်ဆောက်ပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ဂ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Crystal Diamond Livestock Company Limited သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနှင့်ကူးသန်းရောင်းဝယ်ရေးဘဏ်တွင်၃၁-၁၂-၂၀၁၄ ရက်စွဲဖြင့် ငွေစာရင်းလက်ကျန် အမေရိကန်ဒေါ်လာ ၁၂၃၉၄၂.၄၀ ရှိကြောင်း နှင့် Crystal Diamond Livestock Company Limited ၏ MOA AOA မူကြမ်း၊ ကုမ္ပဏီမှတ်ပုံတင်အထောက်အထားများ၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများအား တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့် အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်းမထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီ အစဉ်များကို တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၃။ **စိစစ်တင်ပြချက်။** မြေနှင့်ပတ်သက်၍ Crystal Diamond Livestock Co., Ltd. မှ မူလမြေပိုင်ရှင်များ ဖြစ်ကြသောဦးမြင့်ရွှေ၊ ဦးခင်မောင်မြတ်(ခ)ကျာတစ်၊ဒေါ်မာမာရီ(ခ) မကွေ့ပွာ တို့ထံ မှ Crystal Diamond Livestock Co., Ltd. ၏ကိုယ်စားဒါရိုက်တာဖြစ်သူ ဦးမောင်မောင်ကျော် မှ အပြီးအပိုင်ဝယ်ယူ ထားသော အရောင်းအဝယ်စာချုပ်များ တင်ပြထားပါသည်။ ကော်မရှင်ခွင့်ပြုမိန့် ရရှိပြီးပါက အဆောက်အဦ ဆောက်လုပ်ပြီး ကုမ္ပဏီအမည်ပေါက် မြေဂရန်ရရှိရန် ဆက်လက် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၄။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည်ငွေရင်း တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ Crystal Diamond Livestock Company Limited မှ မြေကွက်အမှတ်-(၄၇/၄၈/၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)၊ ရွှေသံလွင်စက်မှုဇုံ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာအကျယ်အဝန်း (၁၀.၇၅၇) ဧကတွင် မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ၏ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

# ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Crystal Diamond Livestock Company Limited.<br><br>ခရစ်စတယ်(လ်)ဒိုင်းမွန်း လိုက်(ဖ်) စတော့(ပ်) ကုမ္ပဏီ လီမိတက် | Crystal Diamond Livestock Co., Ltd. | အမှတ်(၆၂/အေ)၊အင်းယားလမ်း၊ ၁၀-ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၁)ဦးစဝ်ခွန်စံအောင်<br>မန်နေဂျင်းဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၁၈၄၄၇ | |
| | | (၂)ဦးစိုးကြာခိုင်<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၁၄၆၀၅ | အမှတ်(၆၈)၊အင်းယားလမ်း၊ ၁၀-ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၃)ဒေါ်နန်းလင်းလင်းခိုင်<br>ဒါရိုက်တာ<br>၁၃/လရန(နိုင်)၀၀၅၅၅၀ | အမှတ်(၇၃)၊ရွှေတောင်တန်းလမ်း၊ လမ်းမတော်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၄)ဦးမောင်မောင်ကျော်<br>ဒါရိုက်တာ<br>၁၃/လရန(ဧည့်)၀၀၀၀၆၆ | အမှတ်(၇၃)၊ရွှေတောင်တန်းလမ်း၊ လမ်းမတော်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၅)ဦးနေဝင်းအောင်<br>ဒါရိုက်တာ<br>၁၃/လရန(ဧည့်)၀၀၀၀၆၇ | အမှတ်(၁၄/စီ)၊အင်းယားလမ်း၊ ကမာရွတ်မြို့နယ်၊ရန်ကုန်မြို့။ |
| | | (၆)ဦးညီညီလွင်<br>ဒါရိုက်တာ<br>၁၃/လရန(ပြု)၀၀၀၀၂၄ | အမှတ်(၆၈)၊အင်းယားလမ်း၊ ၁၀-ရပ်ကွက်၊ကမာရွတ်မြို့နယ်၊ ရန်ကုန်မြို့။ |
| | | (၇) ဒေါ်မွေးမွေး<br>ဒါရိုက်တာ<br>၁၃/လရန(ဧည့်)၀၀၀၀၆၈ | အမှတ်(၅၂၀)၊ ကမ္ဘာအေးဘုရားလမ်း၊ ကိုယ်မင်းကိုယ်ချင်းလမ်း၊ ဗဟန်းမြို့နယ်၊ရန်ကုန်မြို့။ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၁-၆၈၅၆၆၅၊ ၀၉-၇၃၀၅၁၄၈၃၊

| | | |
|---|---|---|
| ၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ်(၂)၊ ဗိုလ်အောင်ကျော်လမ်း၊ စက်မှုဇုန်(၄)၊ လှိုင်သာယာမြို့နယ်၊ရန်ကုန်မြို့။ |
| ၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဦးထိန်ဝင်းစိုး(၀၉၅၁၄၈၉၁၁) |
| ၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်း လုပ်ငန်း |
| ၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | ၂၁၉၂/၂၀၁၂-၂၀၁၃(၃၁-၈-၂၀၁၂) |
| ၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

ကန့်သတ်

၁၃

နောက်ဆက်တွဲ - က

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်...၄၂၄၂...
ရက်စွဲ...၁၃.၂.၁၅
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး

ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄. ၁. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရကာ-၂ / မ - ၂၀၆ / ၂၀၁၅ (၀၅၃ - က)

၁။ Crystal Diamond Livestock Co., Ltd. သည် ရာနှုန်းပြည့်မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းအမှတ်(၄၇/၄၈/၅၃)ရှိ မြေအကျယ်(၁၀. ၇၅၇)ဧကတွင် မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၂၀၀)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းအမှတ်(၄၇/၄၈/၅၃)ရှိ မြေအကျယ်(၁၀. ၇၅၇)ဧကအား Crystal Diamond Livestock Co., Ltd. မှ ကိုယ်ပိုင်မြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

115/Cabinet/7.,(5)

**ကန့်သတ်**

၁၄

:

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၅. ၂. ၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၇/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၄၉)အရ Crystal Diamond Livestock Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်စီးပွားရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Crystal Diamond Livestock Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

နောက်ဆက်တွဲ - ခ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၂/၂၂၀(ခ)(၆)/( ၁၁၉၅ /၂၀၁၅)
ရက်စွဲ ၂၀၁၅ခုနှစ်၊ဖေဖော်ဝါရီလ ၁၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၉-၁-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၂/မ-၂၀၆/၂၀၁၅(၀၆၃)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Crystal Diamond Livestock Co., Ltd. သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်းအမှတ် (၄၇/၄၈/၅၃) ရှိ မြေအကျယ် (၁၀.၇၅၇) ဧကတွင် မွေးမြူရေး အစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် တည်ဆောက်မည့်ကာလမှာ (၂) နှစ်ဖြစ်၍ ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ် (၃၀)နှင့် (၁၀)နှစ်နှစ်ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းကို ပထမနှစ်တွင် ၅၃၄၆၄ မက်ထရစ်တန်မှစ၍ (၁၀)နှစ်မြောက်နှစ်တွင် ၁၂၉၆၂၉ မက်ထရစ်တန်အထိ အဆင့်ဆင့် တိုးမြှင့်ထုတ်လုပ်သွားမည် ဖြစ်ပါကြောင်း ဖော်ပြ ပါရှိပါသည်။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာကိစ္စများနှင့်ပတ်သက်၍ ဓာတုပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများအား စနစ်တကျ သိုလှောင်သိမ်းဆည်းမည် ဖြစ်ပါကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြု လုပ်ငန်းဆောင်ရွက်ခြင်းကြောင်း စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်ခြင်း၊ အခိုးအငွေ့ နှင့် ဖုန်မှုန့်များကြောင့် မြေထု၊ လေထုနှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်သည့် အပြင် ဆူညံသံ များကြောင့်လည်း ပတ်ဝန်းကျင်အား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ပါသည်။ ထို့အပြင် မွေးမြူရေး အစာတောင့်များမှ ထွက်ရှိမည့် အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေး ထိခိုက် နိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Crystal Diamond Livestock Co., Ltd. သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ ရွှေသံလွင် စက်မှုဇုန်၊ မြေတိုင်းအမှတ် (၄၇/၄၈/၅၃)ရှိ မြေအကျယ် (၁၀.၇၅၇) ဧကတွင် မွေးမြူရေး အစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်စပ်လျဉ်း၍ အောက်ပါ အတိုင်း ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းလည်ပတ်ခြင်းနှင့် ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့၏ စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာ ဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် အစီအစဉ်များ ရေးဆွဲပြီး လိုက်နာဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ကို ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်း များအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး စီမံချက် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် အစီရင်ခံစာတွင်ပါရှိသည့်အတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း များနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ် ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ် ၊ သစ်တောဦးစီးဌာန

ကန့်သတ်
၁၇

နောက်ဆက်တွဲ - ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
## ပြည်ထောင်စုဝန်ကြီးရုံး

9/2/2015

10/2

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး(၃၁၆ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၉ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄-၁-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၀၆/ ၂၀၁၅ (၀၅၃-ခ)

(၂) မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၏ (၄-၂-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ညကခ/သထ/စက်ရုံ/၂၀၁၅(၁၇၆)

၁။ Crystal Diamond Livestock Co.,Ltd သည် ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်း အမှတ် (၄၇/ ၄၈/၅၃) ရှိ မြေအကျယ် (၁၀.၇၅၇) ဧကတွင် မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာ ခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်ညှိနှိုင်းလာ ပါသည်။

၂။ Crystal Diamond Livestock Co., Ltd မှ လုပ်ငန်းအဆိုပြုချက်နှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

(က) အဆိုပြုသည့် ကုမ္ပဏီ - Crystal Diamond Livestock Co.,Ltd

(ခ) ဆောင်ရွက်မည့်လုပ်ငန်း - မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်း

(ဂ) လုပ်ငန်းတည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊မြေတိုင်းအမှတ်(၄၇/ ၄၈/ ၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)ရှိ မြေဧရိယာ (၁၀.၇၅၇) ဧက

(ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ (၉.၅) သန်းကျော် မြန်မာကျပ် (၁၇.၇) ဘီလီယံကျော်

(င) ရောင်းချမည့်နည်းစနစ် ၁၀၀% ပြည်တွင်းတွင်ရောင်းချခြင်း

(စ) တည်ဆောက်မှုကာလ - (၂) နှစ်

(ဆ) အရင်းကျေကာလ - (၁၂) နှစ်

(ဈ) ရင်းနှီးမြှုပ်နှံမည့်သက်တမ်း - ကနဦး နှစ်(၃၀)နှင့် (၁၀)နှစ်သက်တမ်းတိုး ၂ကြိမ်

(ည) ဝန်ထမ်းအင်အား - စုစုပေါင်း (၂၀၂) ဦး
ပြည်တွင်း (၂၀၀) ဦး၊ပြည်ပ (၂) ဦး

၃။ Crystal Diamond Livestock Co., Ltd မှ မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ပြနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ စက်မှုလက်မှုလုပ်ငန်းအတွက် မြေအသုံးပြုခွင့် ပါရှိပါသည်။

၄။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်၊ မြေတိုင်း အမှတ် (၄၇/၄၈/၅၃)၊ မြေတိုင်းရပ်ကွက်အမှတ်(၁၄)ရှိ မြေအကျယ် (၁၀.၇၅၇) ဧကအား မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အပြီးအပိုင်ဝယ်ယူခဲ့ပြီး စက်မှုဇုန်မြေကွက် အပြီးအပိုင် အရောင်းအဝယ် ကတိစာချုပ်အား ပူးတွဲတင်ပြထားပါသည်။

၅။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ (၉.၅) သန်း ကျော်နှင့် မြန်မာငွေကျပ် (၁၇.၇) ဘီလီယံကျော် ရင်းနှီးမြှုပ်နှံဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံမှ ထွက်ရှိသည့် ကုန်ချောများကို ပြည်တွင်း၌ (၁၀၀%) တင်ပို့ရောင်းချမည်ဖြစ်ပါသည်။

၆။ Crystal Diamond Livestock Co., Ltd ၏ ငွေကြေးခိုင်မာမှု အထောက်အထား သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့စည်းမျဉ်း၊ စက်ရုံတည်နေရာပြမြေပုံတို့အား တင်ပြထားပါသည်။

၇။ အဆိုပြုတည်ဆောက်မည့်မြေနေရာမှာ ပြည်ပစက်မှုနယ်မြေဖြစ်၍ စက်ရုံဆောက်လုပ်ရန် သင့်တော်မှုရှိပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် (Evaluation of environmental impact) နှင့်ပတ်သက်၍ Water Purification System နှင့် Waste Water Treatment System တို့ ထည့်သွင်းဆောင်ရွက်မည်ဟု ဖော်ပြပါရှိပါသည်။

၈။ Crystal Diamond Livestock Co., Ltd ၏ မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများရရှိမည် ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ခေတ်မီနည်းပညာများ တိုးပွားရရှိစေမည်ဖြစ်ပါသည်။

(ခ) မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ရန်ကုန်တိုင်းဒေသကြီးအတွင်းတွင် အရည်အသွေးကောင်းမွန်သည့် မွေးမြူရေး အစာနှင့် တိရစ္ဆာန်မွေးမြူ ထုတ်လုပ်ရေးလုပ်ငန်းကို ဖွံ့ဖြိုးတိုးတက်စေမည်ဖြစ်ကာ

ပြည်တွင်းဖူလုံရေး၊ တစ်ပိုင်တစ်နိုင် စီးပွားဖြစ် တိရစ္ဆာန်မွေးမြူ ဝင်ငွေတိုးတက် ရရှိမည်ဖြစ်ပါသည်။

၉။ သို့ဖြစ်ပါ၍ Crystal Diamond Livestock Co., Ltd မှ မွေးမြူရေးအစာတောင့် ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြခြင်းအပေါ် အာဆီယံနိုင်ငံများ၏ သတ်မှတ်ချက်များနှင့်အညီ G.M.P Standards (Good Manufacturing Practices) စနစ်ဖြင့် တည်ဆောက်ပါက မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
(၂) မန်နေးဂျင်းဒါရိုက်တာ၊ Crystal Diamond Livestock Co., Ltd
(၃) ရုံးလက်ခံ
(၄) မျှော

ကန့်သတ်
၂၀

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်ရုံး

စာအမှတ်၊ ညကခ/ သထ/စက်ရုံ/၂၀၁၅(၁၅၆)
ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ ဖေဖော်ဝါရီလ ၄ ရက်

အကြောင်းအရာ။ Crystal DiamondLivestockCo.ltd နှင့်ပတ်သက်၍ သဘောထား မှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာ၊ပြည်ထောင်စုဝန်ကြီးရုံး၏ (၂၉-၁-၂၀၁၅)ရက်စွဲပါစာ အမှတ်၊၃/၃၀၀၀/ မွေးရေကျေး(၂၆၄/၂၀၁၅)

Crystal Diamond Livestock Co.ltd ၏ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ရွှေသံလွင်စက်မှုဇုန်ရှိမြေတိုင်းအမှတ်(၄၇/၄၈/၅၃)မြေအကျယ် (၁၀.၇၅၇)ဧကတွင် မွေးမြူရေးအစာတောင့်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်မည့် လုပ်ငန်းအဆိုပြုလွှာနှင့်ပတ်သက်၍ သဘောထား မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာအရအကြောင်းကြားလာမှုအပေါ် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနအနေဖြင့် GMP Standards (Good Manufacturing Practices) ဖြင့် တည်ဆောက်ပါကကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်နှင့် အတူလုပ်ငန်းအဆိုပြုလွှာစာအုပ်အား ပြန်လည်တင်ပြအပ်ပါသည်။

ဒေါက်တာမြင့်သန်း
ညွှန်ကြားရေးမှူးချုပ်

ပြည်ထောင်စုဝန်ကြီးရုံး
မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန
မိတ္တူကို
ရုံးလက်ခံ

မျှောစာတွဲ
လက်ခံစာတွဲ